



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၀၂ / ၂၀ ၁၁ ။ ၂၀ ၁၁ ခုနှစ်၊ မတ် လ ၂၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးရန်ဝင်း၊ဦးသာဌေး ၊ဦးသက်လင်း ၊ဦးတင့်ဆန်း

(ခ) အဘအမည် ဦးမြဖေ၊ ဦးထွန်းရင်၊ ဦးဟန်လျှန်ဟောင်(ခ)ဦးရန်အောင်၊ ဦးကောက်ရိန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/စခန(နိုင်)၊ ၁၂/အစန(နိုင်)၊ ၁၂/အလန(နိုင်)၊ ၁၄/မမန(နိုင်) ၀၂၈၈၇၃ ၊ ၀၃၀၁၈၂ ၊ ၀၃၃၉၇၃ ၊ ၀၂၈၆၀၇

(ဃ) နေရပ်လိပ်စာ ဦးရန်ဝင်း–အမှတ်(၄၁)အေ၊ရွှေတောင်ကြားလမ်း၊(၂)ရပ်ကွက်၊ဗဟန်းမြို့နယ်။
ဦးသာဌေး–အမှတ်(၁၈)၊စီအင်းယားမြိုင်လမ်း၊ရွှေတောင်ကြား(ခ)ရပ်ကွက်၊ဗဟန်းမြို့နယ်။
ဦးသက်လင်း–အမှတ်(၇၅)လုံးချင်း၊ဆင်မင်းလမ်း၊ဆင်မင်းရပ်ကွက်၊အလုံမြို့နယ်။
ဦးတင့်ဆန်း–အမှတ်(၁၅၃) ခရေလမ်း၊(၁၃)ရပ်ကွက်၊ သာကေတမြို့နယ်။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့ အစည်း (ရန်ကုန်တိုင်းဒေသကြီး)
လေးဦးအဖွဲ့ ကုမ္ပဏီလီမိတက် ( Group Of Four Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ဟိုတယ်တည်ဆောက်ခြင်းနှင့်ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ဖိုးဇောင်တောင်၊ဥတ္တရသီရိမြို့၊နေပြည်တော်။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၃၅၀၀.၀၀ (သန်း) (ကျပ်သန်းပေါင်းသုံးထောင်ငါးရာ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၃၃ / ၂၀၁၁ (မနသ)
နေပြည်တော်၊ ၁၃၇၂ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၉ ရက်
(၂၀၁၁ ခုနှစ်၊ မတ် လ ၂၈ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော လေးဦးအဖွဲ့ ကုမ္ပဏီလီမိတက်(Group of Four Co., Ltd) သည် နေပြည်တော်၊ ဥတ္တရသီရိမြို့၊ ဖိုးဇော်တောင်ပေါ်တွင် Mount Pleasant Hotel တည်ဆောက်၍ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား ကုမ္ပဏီအမည်ဖြင့် နေပြည်တော် စည်ပင် သာယာရေး ကော်မတီမှ အသုံးပြုခွင့် ရရှိထားသော မြေ (၁၁၁.၉၂)ဧက (၄၅၂၉၃၆.၇၁ စတုရန်းမီတာ) တွင် ဆောင်ရွက်မည့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် အဆိုပြု တင်ပြချက်အား (၂၅-၂-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၉-၃-၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၉/၂၀၁၁) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၂၄-၃-၂၀၁၁) နေ့တွင် ကျင်းပသော အစိုးရအဖွဲ့၏ (၁၂/၂၀၁၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် လေးဦးအဖွဲ့ ကုမ္ပဏီ လီမိတက်(Group of Four Co., Ltd) အား ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၀၂/၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ လေးဦးအဖွဲ့ ကုမ္ပဏီ လီမိတက်(Group of Four Co., Ltd)အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက် ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေ တိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဉာဏ်ကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဉာဏ်ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှတင်သွင်း သည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ (ဈ) အရ ပြည်ပမှ တင်သွင်း သည့် စက် ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က)ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများနှင့် စပ်လျဉ်း၍ နိုင်ငံခြားငွေရရှိပုံ နည်းလမ်း ( Source of Payment for Import)ဥပမာ-ပြည်ပတင်ပို့မှုမှဝင်ငွေ၊ Account Transfar ဖြင့်ရယူခြင်းစသည်တို့ကိုဖော်ပြရန်

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ် (FCEC)သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ လေးဦးအဖွဲ့ ကုမ္ပဏီ လီမိတက်(Group of Four Co., Ltd) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ အဆိုပြု လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် (၃၅၀၀.၀၀) သန်း ဖြစ်သောကြောင့် ကုမ္ပဏီ၏ မတည်ရင်းနှီးငွေ (Authorized Capital)တိုးမြှင့်ခွင့်ကို ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ တင်ပြ လျှောက်ထားရမည်။

၆။ လေးဦးအဖွဲ့ ကုမ္ပဏီ လီမိတက်(Group of Four Co., Ltd)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ လေးဦးအဖွဲ့ ကုမ္ပဏီ လီမိတက်(Group of Four Co., Ltd)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာချောင်ချိရေးနှင့် လုပ်ငန်း ခွင်သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၉။ လေးဦးအဖွဲ့ ကုမ္ပဏီ လီမိတက်(Group of Four Co., Ltd)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ လေးဦးအဖွဲ့ ကုမ္ပဏီ လီမိတက်(Group of Four Co., Ltd)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/အောက်တိုဘာလ များ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြု လုပ်ငန်း ၏ စီးပွားဖြစ် စတင်ဆောင်ရွက် သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ် ) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ လေးဦးအဖွဲ့ ကုမ္ပဏီ လီမိတက်(Group of Four Co., Ltd)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြု သူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြု မိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(မောင်မောင်သိမ်း)

ဥက္ကဌ

စာအမှတ်၊ရက-၆(က) /မ-၁၁၂၁ / ၂၀၁၁(၄၂၈၃)၊

ရက် စွဲ ၊ ၂၀၁၁ ခုနှစ် ၊ မတ် လ ၂၈ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၅။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၆။ အလုပ်သမား ဝန်ကြီးဌာန။

၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၉။ ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။

၁၀။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန။

၁၁။ အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၂။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၃။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၅။ နေပြည်တော်စည်ပင်သာယာရေးကော်မတီ။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း။

၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ လေးဦးအဖွဲ့ ကုမ္ပဏီ လီမိတက်(Group of Four Co., Ltd)။